



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ-၁၂၄၃/၂၀၁၇ ။ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၁ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးမြဟန်

(ခ) **အဘ အမည်** ဦးဇော်ဝင်း

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ကမရ(နိုင်) ၀၁၄၃၆၄

(ဃ) **နေရပ်လိပ်စာ** အမှတ်-၆၁၅-ဒီ ၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** ဖော်ကျွန်းဓာတ်လှေကား နှင့်စက်လှေကားကုမ္ပဏီလီမိတက်(Fortune Elevator & Escalator Company Limited)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** နိုင်ငံတကာအဆင့်မီ ဓာတ်လှေကားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မြေကွက်အမှတ်-၂၈၃၊ ရန်ကုန်စက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း၃၅၀၀(အမေရိကန်ဒေါ်လာ ၁.၅၈ သန်း အပါအဝင် ကျပ်သန်းသုံးထောင့်ငါးရာတိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၁၈လ

11.4.17

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၂၂ /၂၀၁၇(မနသ)

၂၀၁၇ ခုနှစ် ဧပြီလ ၂၂ ရက်

၁။ ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited)သည် မြေကွက်အမှတ်(၂၈၃)၊ ရန်ကုန်စက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂.၁၅၈ ဧက (၈၇၃၃.၁၂ စတုရန်းမီတာ)တွင် နိုင်ငံတကာအဆင့်မီဓာတ်လှေကားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား ၂၀၁၇ ခုနှစ် မတ်လ ၁၃ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၅/၂၀၁၇)အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်း ထားသောလုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီ လီမိတက် (Fortune Elevator & Escalator Company Limited)အား နိုင်ငံတကာအဆင့်မီဓာတ်လှေကားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၂၄၃/၂၀၁၇ ကို ထုတ်ပေးလိုက်သည်။

၂။ ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ်

ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ)ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျှော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျှော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ)ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍

နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ်ထားရှိဆောင်ရွက်အကောင်အထည်ဖော်ရမည်။

၅။ ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၇။ ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေး တို့အတွက် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)၊ ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်း ဆောင်ရွက်ပြီးစီးမှု အခြေအနေကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန တို့သို့ ပေးပို့အစီရင်ခံရမည်။

၈။ ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများခန့်ထားရာတွင် အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၉။ ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ် ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ်

ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံး ပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၀။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၁။ ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited)သည် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။ထုတ်လုပ်မည့် ဓာတ်လှေကားအစိတ်အပိုင်းများ၏အရည်အသွေးအသိအမှတ်ပြု လက်မှတ်အား စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနသို့ စစ်ဆေးခံ၍ လျှောက်ထားရမည်။

၁၂။ ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited)သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၁၄။ ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited)သည် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်းသတ်မှတ်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော

ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရ ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင် ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟုမှတ်ယူရမည်။

11.4.17

(ကျော်ဝင်း)
ဥက္ကဌ

စာအမှတ် ၊ မရက-၃/မ-၁၃၉၄/၂၀၁၇( ၄၄၂-၈ )
ရက်စွဲ ၊၂၀၁၇ ခုနှစ် ဧပြီလ ၁၁ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ကန့်သတ်
၆

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
အုပ်ချုပ်မှုဒါရိုက်တာ၊ ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့်တင်ပြလာသော ဖော်ကျွန်းခာတ်လှေကားနှင့်စက်လှေကား ကုမ္ပဏီလီမိတက်၏ကော်မရှင်အစည်းအဝေးသို့တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၀-၁၂-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၂၃-၁၂-၂၀၁၆ | ၁၂-၁-၂၀၁၇ | |
| | ( ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၂၃-၁၂-၂၀၁၆ | ၉-၁-၂၀၁၇ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၂၃-၁၂-၂၀၁၆ | ၉-၁-၂၀၁၇ | |
| | (ဃ)မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၂၃-၁၂-၂၀၁၆ | ၁၀-၂-၂၀၁၇ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၃၅/၂၀၁၆) သို့ တင်ပြခြင်း | ၁၉-၉-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာပေးပို့ခြင်း | ၂၀-၉-၂၀၁၆ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၂၆-၉-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်၍ အဆိုပြုလွှာ ပြန်လည် တင်ပြလာခြင်း | ၂၁-၁၂-၂၀၁၆ | | |
| ၇ | ကုမ္ပဏီမှ ပြင်ဆင်ပြီး အဆိုပြုလွှာ အစုံ (၇) စုံ ပေးပို့ခြင်း | ၁၇ -၂-၂၀၁၇ | | |
| | စုစုပေါင်းကြာမြင့်ရက် | (၅၉)ရက် | | |

ကန့်သတ်

အကြောင်းအရာ။ **ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited) တည်ထောင်ကာ နိုင်ငံတကာအဆင့်မီ ဓာတ်လှေကားများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - ဖော်ကျွန်းဓာတ်လှေကားနှင့်စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited)<br>- ဦးမြဟန် (အဘ-ဦးဖော်ဝင်း) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ (Private Company) ဖြစ်ပါသည်။ |
| | | - ဦးမြဟန် ၃၀%<br>- ဒေါ်ခင်စပယ်ကြည် ၂၅%<br>- ဒေါ်မြမာလာဟန် ၁၅%<br>- ဒေါ်ထက်မြတ်ဟန် ၁၅%<br>- ဒေါ်လင်းလက်ဝင်း ၁၅% |
| | လုပ်ငန်းအမျိုးအစား | - နိုင်ငံတကာအဆင့်မီဓာတ်လှေကားများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်(၂၈၃)၊ ရန်ကုန်စက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဦးမြဟန် |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၂.၁၅၈ ဧက (၈၇၃၃.၁၂ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၃၀ ပေ x၄၈ ပေ x ၁၁ ပေ (၁ထပ်ခွဲစက်ရုံအဆောက်အဦ ၁လုံး) |
| | မြေငှားရမ်းကာလ | - ကိုယ်ပိုင်မြေပေါ်တွင်ဆောင်ရွက်ခြင်းဖြစ်ပါသည်။ |
| ၃။ | နှစ်စဉ်မြေနှင့်အဆောက်အဦငှားရမ်းခ | - ကိုယ်ပိုင်မြေပေါ်တွင်ဆောင်ရွက်ခြင်းဖြစ်ပါသည်။ |
| ၄။ | လုပ်ငန်းသက်တမ်း | - ၂၀ နှစ် |
| | တည်ဆောက်မှုကာလ | - ၁၈ လ |
| | ပဏာမစမ်းသပ်လည်ပတ်မှုပြုလုပ်မည့်ကာလ | - ၁ လ |
| ၅။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - ကျပ် ၃၅၀၀ သန်း(US$ ၁.၅၈ သန်း အပါအဝင်) |

| | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|
| ငွေသား | ၁၁၃၅.၉၅ | | ၁၁၃၅.၉၅ |
| စက်ပစ္စည်းတန်ဖိုး(ပြည်တွင်း/ပြည်ပ) | ၆၉.၀၀ | ၁.၂၆ | ၁၇၀၃.၇၅ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းတန်ဖိုး | ၈.၂၀ | | ၈.၂၀ |
| အဆောက်အဦ | ၂၂၀.၂၂ | ၀.၁၇ | ၄၄၉.၅၅ |
| မြေတန်ဖိုး | ၇.၅၅ | | ၇.၅၅ |
| နည်းပညာတန်ဖိုး | | ၀.၁၅ | ၁၉၅.၀၀ |
| **စုစုပေါင်း** | **၁၄၄၀.၉၂** | **၁.၅၈** | **၃၅၀၀.၀၀** |

ကန့်သတ်

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား(ပထမနှစ်) | - ၁၁၄ ဦး |
| | ပြည်တွင်း | - ၁၁၄ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာ ကျပ် ၁၂၀,၀၀၀နှင့် အမြင့်ဆုံးလစာ ကျပ် ၆၀၀,၀၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀% |
| ၈။ | ဝင်ငွေ (ဆဋ္ဌမနှစ်) | - ကျပ် ၇၈၇၇.၃၀ သန်း |
| | အသုံးစရိတ် (ဆဋ္ဌမနှစ်) | - ကျပ် ၇၄၈၉.၆၅ သန်း |
| | အသားတင်အမြတ်(ဆဋ္ဌမနှစ်) | - ကျပ် ၃၈၇.၆၅ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမနှစ်) | |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၃၉၃.၈၆ သန်း |
| | ဝင်ငွေခွန် | - ကျပ် ၁၂၉.၂၂ သန်း<br>(အမေရိကန်တစ်ဒေါ်လာလျှင် ၁၃၀၀ကျပ်နှုန်း ဖြင့်တွက်ချက်ထားပါသည်။) |
| | အရင်းကြေကာလ | - ၇ နှစ် ၆လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၂.၁၆ % |
| ၁၀။ | နှစ်စဉ်လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၁၅၀၀ KVA |
| ၁၁။ | ထုတ်လုပ်မှုနှင့်ရောင်းချမှုဈေးနှုန်း (၆နှစ်မြောက်) | |

| အမျိုးအစား | ထုတ်လုပ်မှုအရေအတွက် | ရောင်းချမှုဈေးနှုန်း |
|---|---|---|
| Elevator | (Set) | (Kyat/ Set) |
| (က) 560 KG (8 Persons) | ၆၀ | ၃၈,၆၁၀,၀၀၀ |
| (ခ) 700 KG (10 Persons) | ၆၀ | ၄၂,၇၇၁,၃၀၀ |
| (ဂ) 1050 KG (15 Persons) | ၆၀ | ၄၉,၉၀၇,၀၀၀ |

| | | |
|---|---|---|
| ၁၂။ | အခြား | - ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited)၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်အမှတ်- ၁၀၅၅/၁၉၉၇-၁၉၉၈ နှင့် ၃၁-၁၀-၂၀၁၉ အထိ ၅နှစ် သက်တမ်းတိုးထားသည့် အထောက်အထား(မိတ္တူ)၊ သင်းဖွဲ့မှတ်တမ်း နှင့်သင်းဖွဲ့စည်းမျဉ်း(မိတ္တူ)၊ ဒါရိုက်တာစာရင်း၊ နိုင်ငံသားစိစစ်ရေးကဒ် (မိတ္တူ)များအားတင်ပြထားပါသည်။<br>- ၂၃-၇-၂၀၁၅ ရက်စွဲဖြင့် ကုမ္ပဏီ၏ Form VIနှင့် XXVI (မိတ္တူ) တို့ကို တင်ပြထားပါသည်။<br>- လုပ်ငန်းမှတ်ပုံတင်အမှတ် ၁၀၅၅/၁၉၉၇-၁၉၉၈(၁၀-၁၀-၁၉၉၇) ဖြင့် ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ်၏ အသင်းဝင်လက်မှတ်(မိတ္တူ)အား တင်ပြထားပါသည်။ |

**၁၃။ စိစစ်တင်ပြချက်**

- ၃၁-၁၀-၂၀၁၄ ရက်စွဲဖြင့် သွင်းကုန်ထုတ်ကုန် မှတ်ပုံတင်လက်မှတ် (မိတ္တူ)တင်ပြထားပါသည်။
- ငွေကြေးအထောက်အထားအဖြစ် Fortune Elevator & Escalator Co., Ltd. သည် ၃၀-၁၁-၂၀၁၆ ရက်စွဲဖြင့် United Amara Bank Ltd. (Latha Branch)တွင် ကျပ်ငွေ ၁၁၆,၃၉၇,၇၄၁.၇၇ ရှိကြောင်း နှင့် ၁၈-၁-၂၀၁၇ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၇၀,၃၃၀.၅၄ ရှိကြောင်း တင်ပြထားပါသည်။
- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာ ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားသား မည်သူတစ်ဦးတစ်ယောက်မှ ပါဝင်ပိုင်ဆိုင်ခြင်း မရှိကြောင်း ဝန်ခံကတိပြုထားပါသည်။
- ဝန်ထမ်းများအတွက် သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေး အတွက် စီစဉ်ဆောင်ရွက်ထားမှုများ၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက် စီစဉ်ဆောင်ရွက်ထားရှိမှုများ၊ အလုပ်သမားများ၏ လစာဝင်ငွေပေါ်တွင် ပေးဆောင်ရမည့် ဝင်ငွေခွန်နှင့် ပတ်သက်၍ ဝန်ခံချက်၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် စီမံဆောင်ရွက် ထားရှိမှုအစီအစဉ်များနှင့်လူမှုဘဝသာယာဝပြောမှုအစီအစဉ်အဖြစ် အသားတင်အမြတ်မှ ၂% သုံးစွဲမည် ဖြစ်ကြောင်း တင်ပြထားပါသည်။
- မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။
- ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၊စက်မှုဝန်ကြီးဌာနနှင့် မြန်မာနိုင်ငံအင်ဂျင်နီယာ အသင်းများမှသဘောထားမှတ်ချက်များရရှိထားပြီးဖြစ်ပါသည်။
- ဒါရိုက်တာအဖွဲ့ဝင်များမှာ မိသားစုဝင်များဖြစ်ကြပြီး ကမကထပြုသူ ဦးမြဟန်၏ ကိုယ်ပိုင်မြေတွင်အဆိုပြုလုပ်ငန်းအား ဆောင်ရွက်ခြင်းဖြစ်ပါသည်။ ၄င်းပိုင် မြေဧရိယာ ၂.၁၅၈ ဧကအား တန်ဖိုးသင့်၍ မတည်ငွေရင်း၌ ကျပ် ၇.၅၅သန်း အဖြစ် ထည့်ဝင်ထားပြီး ၄င်းတန်ဖိုးသင့်ငွေသည် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံသို့ ၂၉-၈-၂၀၀၆ ရက်စွဲဖြင့် ပေးသွင်းခဲ့သည့် မြေတန်ဖိုးအတိုင်းဖြစ်ကြောင်း ငွေလက်ခံဖြတ်ပိုင်း (မိတ္တူ)ကို တင်ပြထားပါသည်။
- တင်သွင်းမည့်စက်ပစ္စည်းအစိတ်အပိုင်းများနှင့် ဓာတ်လှေကားတွင် ပါဝင်သည့် အစိတ်အပိုင်းများ၏ ဓာတ်ပုံများအားတင်ပြထားပါသည်။
- ကုမ္ပဏီမှ နှစ်ကာလအပိုင်းအခြားအလိုက်မှာယူတင်သွင်းမည့်စက်ပစ္စည်း အစိတ်အပိုင်းနှင့် ထုတ်လုပ်မည့်စက်ပစ္စည်းအစိတ်အပိုင်း အရေအတွက် ရာခိုင်နှုန်းဇယား

| စဉ် | နှစ်ကာလ အပိုင်းအခြား | ပြည်ပမှ တင်သွင်းမည့် အစိတ်အပိုင်း အရေအတွက် | ရာခိုင်နှုန်း | ပြည်တွင်းတွင် ထုတ်လုပ်မည့် အစိတ်အပိုင်း အရေအတွက် | ရာခိုင်နှုန်း |
|---|---|---|---|---|---|
| ၁ | ပထမနှစ်မှ တတိယနှစ်အထိ | ၂၉ | ၃၈% | ၄၈ | ၆၂% |

| စဉ် | နှစ်ကာလ အပိုင်းအခြား | ပြည်ပမှ တင်သွင်းမည့် အစိတ်အပိုင်း အရေအတွက် | ရာခိုင်နှုန်း | ပြည်တွင်းတွင် ထုတ်လုပ်မည့် အစိတ်အပိုင်း အရေအတွက် | ရာခိုင်နှုန်း |
|---|---|---|---|---|---|
| ၂ | စတုတ္ထနှစ်မှ ဆဋ္ဌမနှစ်အထိ | ၂၅ | ၃၂% | ၅၂ | ၆၈% |
| ၃ | သတ္တမနှစ်မှ နဝမနှစ်အထိ | ၂၃ | ၂၉% | ၄၅ | ၇၀% |
| ၄ | ဒသမနှစ်မှ နှစ် ၂၀အထိ | ၂၂ | ၂၈% | ၅၆ | ၇၂% |

- ကုန်ကြမ်းများအား တရုတ်ပြည်သူ့သမ္မတနိုင်ငံနှင့် ကိုရီးယားနိုင်ငံတို့မှ တင်သွင်းမည်ဖြစ်ပါသည်။
- ဓာတ်လှေကားများအား Fortune Brand ဖြင့်ထုတ်လုပ်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။
- ဓာတ်လှေကားများအား ကိုရီးယားနည်းပညာအသုံးပြု၍ ထုတ်လုပ်မည်ဖြစ်ပြီး မြန်မာနိုင်ငံတွင် ထုတ်လုပ်သည် (Made in Myanmar) ဟု ဖော်ပြသွားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။
- ဓာတ်လှေကား၏ speed မှာ 16m/sec ရှိပြီး ၈ဦးစီး(560 KG)၊ ၁၀ဦးစီး (700 KG)၊ ၁၅ဦးစီး (1050 KG) ၃မျိုးထုတ်ပြီး အထပ်မြင့် ၁၀ထပ်ထိ တပ်ဆင်သွားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။
- ထုတ်လုပ်မှုတွင် ပါဝင်သည့် အဓိကအရေးကြီးသည့် အစိတ်အပိုင်း (၁၀)မျိုးခန့်ကို နိုင်ငံခြားမှ တင်သွင်းမှု လျော့ချသွားရန် ရည်မှန်းထားရှိပြီး မူလတင်သွင်းမှုမှ (၃၂%)လျော့ချသွားနိုင်မည်ဖြစ်ကြောင်း တင်ပြထား ပါသည်။
- ပြည်ပမှ တင်သွင်းမည့် စက်အစိတ်အပိုင်းများအတွက် Quality Control နှင့်ပတ်သက်၍ နိုင်ငံတကာမှ အသိအမှတ်ပြုထားသော Traction Machine Examination Certificate, Traction Machine Certificate of Comformity, Over Speed Governor, Progressive Safety Gear, Steel Wire Rope Test Report (No.WN18837), Steel Wire Rope Test Report(No.WQ157101) စသည့် Testing Results (သို့) Certificate (မိတ္တူ)များတင်ပြထားပါသည်။
- ပြည်တွင်း၌ ထွက်ရှိလာသည့် အစိတ်အပိုင်းများအား နိုင်ငံတကာစံနှုန်းအရ သတ်မှတ်ထားသည့် နည်းလမ်းများအတိုင်း အရည်အသွေးကို သက်ဆိုင်ရာဌာနဖြင့် စစ်ဆေးသွားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။
- စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန၊ ပြည်တွင်းအခွန်များဦးစီးဌာန၊ အလယ်အလတ်အခွန်ထမ်းများဆိုင်ရာအခွန်ရုံး(၂)မှ၁၁-၁၁-၂၀၁၆ရက်စွဲဖြင့် ဖော်ကျွန်းဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက်သည် ၁၉၉၈-၁၉၉၉ စည်းကြပ်နှစ်မှ၂၀၁၆-၂၀၁၇စည်းကြပ်နှစ်အထိ နှစ်စဉ်အခွန်ပေးဆောင်ခဲ့ပြီးအခွန်ကြွေးကျန်ကင်းရှင်းကြောင်းထောက်ခံစာတင်ပြထားပါသည်။

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited) |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | နိုင်ငံတကာအဆင့်မီဓာတ်လှေကားများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | မြေကွက်အမှတ်(၂၈၃)၊ ရန်ကုန်စက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းမတည်ငွေရင်းပမာဏ | - | ကျပ် ၃၅၀၀ သန်း(US$ ၁.၅၈ သန်း အပါအဝင်) |
| ရောင်းချမည့်စနစ် | - | ပြည်တွင်း ၁၀၀% |
| လုပ်ငန်းသက်တမ်း | - | ၂၀ နှစ် |
| အရင်းကြေကာလ | - | ၇ နှစ် ၆လ |
| IRR | - | ၂၂.၁၆ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်/သန်း) | Benefit (ကျပ်/သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ၃.၀၀ (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၈၂.၈၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | ၂၃၆၃.၁၆ | ၃၅၄၄.၇၄ |
| ၅ | ဝင်ငွေခွန် | ၇၇၅.၃၂ | ၁၁၆၂.၉၈ |
| ၆ | ရေ/လောင်စာဆီ/လျှပ်စစ်မီးသုံးစွဲခ | | ၁၈၉.၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်းထမ်းဆောင်ပါမည်။ |
| ၈ | CSR ၂% | | ၆၉.၇၇ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၁၁၄) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ အလုပ်အကိုင်အခွင့်အလမ်းများပိုမိုရရှိစေပြီးဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၃၂၂၄.၂၈ သန်း | ကျပ် ၄၉၆၇.၁၆ သန်း |
| | Cost : Benefit | ၁ : ၅ | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/မ-၁၃၉၄/၂၀၁၇( ၂၇၀ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၂၈ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited) တည်ထောင်ကာ နိုင်ငံတကာအဆင့်မီ ဓာတ်လှေကားများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited) သည် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ မြေကွက်အမှတ်(၂၈၃)ရှိ မြေဧရိယာ၂.၁၅၈ဧက(၈၇၃၃.၁၂စတုရန်းမီတာ)တွင် နိုင်ငံတကာအဆင့်မီ ဓာတ်လှေကားများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမြဟန် (အဘ-ဦးဖော်ဝင်း)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူမြေပိုင်ရှင် ဦးမြဟန်၏ မြေဆိုင်ရာအထောက်အထား(မိတ္တူ)များ၊ ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited)၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်အမှတ်- ၁၀၅၅/၁၉၉၇-၁၉၉၈ နှင့် ၃၁-၁၀-၂၀၁၉အထိ ၅နှစ်သက်တမ်းတိုးထားသည့်အထောက်အထား(မိတ္တူ)၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း(မိတ္တူ)၊ ဒါရိုက်တာစာရင်း၊ နိုင်ငံသားစိစစ်ရေးကဒ်(မိတ္တူ)များအား တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်းအား မြေဧရိယာ ၂.၁၅၈ ဧက (၈၇၃၃.၁၂ စတုရန်းမီတာ)တွင် ဆောင်ရွက်မည်ဖြစ်ပါသည်။ ဒါရိုက်တာအဖွဲ့ဝင်များမှာ မိသားစုဝင်များဖြစ်ကြပြီး ကမကထပြုသူ ဦးမြဟန်၏ ကိုယ်ပိုင်မြေတွင်အဆိုပြုလုပ်ငန်းအား ဆောင်ရွက်ခြင်းဖြစ်ပါ သည်။ ၎င်းပိုင် မြေဧရိယာ ၂.၁၅၈ ဧကအား တန်ဖိုးသင့်၍ မတည်ငွေရင်း၌ ကျပ် ၇.၅၅သန်း အဖြစ် ထည့်ဝင်ထားပြီး ၎င်းတန်ဖိုး သင့်ငွေသည် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနထံသို့ ၂၉-၈-၂၀၀၆ ရက်စွဲဖြင့် ပေးသွင်းခဲ့သည့် မြေတန်ဖိုးအတိုင်းဖြစ်ကြောင်း ငွေလက်ခံဖြတ်ပိုင်း (မိတ္တူ)ကိုတင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၂၀ နှစ်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၁၈ လ ကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၃၅၀၀ သန်းရှိပြီး ၄င်းတွင်အမေရိကန် ဒေါ်လာ ၁.၅၈သန်း အပါအဝင်ဖြစ်ပါသည်။ မြေဧရိယာ ၂.၁၅၈ ဧကအား တန်ဖိုးသင့်၍ မတည်ငွေရင်း၌ ကျပ် ၇.၅၅သန်း အဖြစ် ထည့်ဝင်ထားပြီး အဆိုပြုလုပ်ငန်းမှ ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|
| ငွေသား | ၁၁၃၅.၉၅ | - | ၁၁၃၅.၉၅ |
| စက်ပစ္စည်းတန်ဖိုး(ပြည်တွင်း/ပြည်ပ) | ၆၉.၀၀ | ၁.၂၆ | ၁၇၀၃.၇၅ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းတန်ဖိုး | ၈.၂၀ | - | ၈.၂၀ |
| အဆောက်အဦ | ၂၂၀.၂၂ | ၀.၁၇ | ၄၄၉.၅၅ |
| မြေတန်ဖိုး | ၇.၅၅ | - | ၇.၅၅ |
| နည်းပညာတန်ဖိုး | - | ၀.၁၅ | ၁၉၅.၀၀ |
| **စုစုပေါင်း** | **၁၄၄၀.၉၂** | **၁.၅၈** | **၃၅၀၀.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ စုစုပေါင်းဝန်ထမ်း ၁၁၄ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်၁၂၀,၀၀၀၊ အမြင့်ဆုံး ဝန်ထမ်းတစ်ဦးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။

၇။ ဖော်ကျွန်း ခေတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက်မှ နှစ်ကာလအပိုင်းအခြား အလိုက် ပြည်ပမှမှာယူတင်သွင်းမည့် စက်ပစ္စည်းအစိတ်အပိုင်းနှင့် ပြည်တွင်းတွင် ထုတ်လုပ်မည့် စက်ပစ္စည်းအစိတ်အပိုင်းအရေအတွက်ရာခိုင်နှုန်းအားအောက်ပါအတိုင်းတင်ပြထားပါသည်-

| စဉ် | နှစ်ကာလ အပိုင်းအခြား | ပြည်ပမှ တင်သွင်းမည့် အစိတ်အပိုင်း အရေအတွက် | ရာခိုင်နှုန်း | ပြည်တွင်းတွင် ထုတ်လုပ်မည့် အစိတ်အပိုင်း အရေအတွက် | ရာခိုင်နှုန်း |
|---|---|---|---|---|---|
| ၁ | ပထမနှစ်မှ တတိယနှစ်အထိ | ၂၉ | ၃၈% | ၄၈ | ၆၂% |
| ၂ | စတုတ္ထနှစ်မှ ဆဋ္ဌမနှစ်အထိ | ၂၅ | ၃၂% | ၅၂ | ၆၈% |
| ၃ | သတ္တမနှစ်မှ နဝမနှစ်အထိ | ၂၃ | ၂၉% | ၅၅ | ၇၁% |
| ၄ | ဒသမနှစ်မှ နှစ်၂၀အထိ | ၂၂ | ၂၈% | ၅၆ | ၇၂% |

၈။ လုပ်ငန်းမှ ထွက်ရှိသော ဓာတ်လှေကားများကို ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ပုံမှန်နှစ်(၆နှစ်မြောက်)ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းချမည့်ဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Set) | ရောင်းချမှု ဈေးနှုန်း (Kyat/ Set) |
|---|---|---|---|
| | Elevator | | |
| (က) | 560 KG (8 Persons) | ၆၀ | ၃၈,၆၁၀,၀၀၀ |
| (ခ) | 700 KG (10 Persons) | ၆၀ | ၄၂,၇၇၁,၃၀၀ |
| (ဂ) | 1050 KG (15 Persons) | ၆၀ | ၄၉,၉၀၇,၀၀၀ |

၉။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည် -

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၇၈၇၇.၃၀ |
| (ခ) | အသုံးစရိတ် | ၇၄၈၉.၆၅ |
| (ဂ) | အသားတင်အမြတ် | ၃၈၇.၆၅ |

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၂၉.၂၂ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၃၉၃.၈၆ သန်းဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၇ နှစ် ၆လ ဖြစ်ပြီး အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၂၂.၁၆ % ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာတစ်ဒေါ်လာလျှင် ၁,၃၀၀ ကျပ်ဖြင့်တွက်ချက်ဖော်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ (၅-၁-၂၀၁၇) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ်(၆၂)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ (က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ အောက်ပါအတိုင်း သဘောထားပြန်ကြားထားပါသည်-

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြု

ရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility- CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်)ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် **ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း** (Initial Environmental Examination-IEE)ကို ဆောင်ရွက်ပြီးပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်။

(၃) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်** (Environmental Management Plan-EMP)ကို ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး(ထုတ်လွှတ်မှု)လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

**နောက်ဆက်တွဲ(ခ)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ**အဆိုပြုလုပ်ငန်းအပေါ် ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ဂ)**

(ဃ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း**မှ စက်ရုံတည်ဆောက်မှုတွင် သတ်မှတ်ထား သောစံချိန်စံညွှန်းများနှင့် အညီတည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း၊ အဆောက်အဦပိုင်းတွင် အဓိက ဆောက်လုပ်ရေးပစ္စည်းဖြစ်သော Cement ကို ပြည်ပမှ တင်သွင်းခြင်းမပြုဘဲ ပြည်တွင်းမှသာ ဝယ်ယူ၍ ဆောက်လုပ်မည်ဖြစ်ကြောင်း၊ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းအရေအတွက်အား Rebar ၉၂ တန်နှင့် Epoxy Paint ၃၆၅ ဂါလံအား ထောက်ခံတင်ပြကြောင်း၊ ယခုတင်ပြသော စီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံ၊ ဒီဇိုင်းများသည် အမှန်တကယ် အသေးစိတ်တည်ဆောက်မည့်ပုံစံ၊ ဒီဇိုင်းများနှင့်

ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသော ပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့် အရေအတွက်နှင့်ကွာခြားနိုင်ပါကြောင်း၊ သို့အတွက်လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့် အခါတွင် ပြန်လည်စိစစ်မှုများ ဆောင်ရွက်ရန် လိုအပ်ကြောင်း၊ သက်ဆိုင်ရာ မီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်အတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ(ဃ)**

၁၂။ ငွေကြေးအထောက်အထားအဖြစ် Fortune Elevator & Escalator Co., Ltd. သည် ၃၀-၁၁-၂၀၁၆ ရက်စွဲဖြင့် United Amara Bank Ltd. (Latha Branch)တွင် ကျပ်ငွေ ၁၁၆,၃၉၇,၇၄၀.၇၇ ရှိကြောင်းနှင့် ၁၈-၁-၂၀၁၇ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၇၀,၃၃၀.၅၄ ရှိကြောင်းတင်ပြထားပါသည်။

၁၃။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့်** ပတ်သက်၍ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးလုပ်ငန်းအစီအမံများနှင့် Fire Protection diagram အားရေးဆွဲတင်ပြထားပါသည်။

၁၄။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှု မရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်လေထု၊ ရေထုနှင့်မြေထုတို့ ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ဝန်ထမ်း၏လစာနှင့် ပတ်သက်၍ နိုင်ငံတော်မှ ချမှတ်ထားသော လစာဝင်ငွေခွန် ဥပဒေအတိုင်း ဝင်ငွေခွန်ပေးသွင်းမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၅။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် ဝန်ထမ်းများအား ရက်မှန်ကြေး၊ ရက်ပိုကြေးနှင့်နှစ်သစ်ကူးအပိုဆုကြေးများ ထုတ်ပေးသွားမည်ဖြစ်ကြောင်း၊ သန့်စင်ခန်းများ လုံလောက်စွာထားရှိပေးမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် ကျန်းမာရေးဝန်ထမ်းများ ထားရှိသွားမည်ဖြစ်ပြီး အရေးပေါ်ဆေးကုသရေးနှင့် လိုအပ်သော ဆေးဝါးများ ထားရှိပေးသွားမည်ဖြစ်ကြောင်း၊ စက်ရုံအတွင်းအပြင် သန့်ရှင်းရေးအား အချိန်ပြည့် ဆောင်ရွက်ထားရှိမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၆။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီးလျှပ်စစ်ဓါတ်အား မရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက် Generator-1000 KVA တစ်လုံးနှင့် 500 KVA တစ်လုံးကို အသုံးပြုမည်ဖြစ်ကြောင်း ကုမ္ပဏီမှတင်ပြထားပါသည်။

၁၇။ ကုမ္ပဏီမှ နှစ်စဉ် အသားတင်အမြတ်၏ ၂% ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) အတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၈။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၁၉ ရက်နေ့တွင် ကျင်းပသော (၃၅/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၉။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

၂၀။ **စိစစ်တင်ပြချက်**

(က) ၁၀နှစ်မြောက်မှ စတင်၍ ထုတ်လုပ်မှုတွင်ပါဝင်သည့် အဓိကအရေးကြီးသည့် အစိတ်အပိုင်း (၁၀)မျိုးခန့်ကို နိုင်ငံခြားမှ တင်သွင်းမှုလျှော့ချသွားရန်ရည်မှန်းထား ရှိပြီးမူလတင်သွင်းမှုမှ(၃၂%)လျှော့ချသွားနိုင်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

(ခ) ပြည်ပမှ တင်သွင်းမည့် စက်အစိတ်အပိုင်းများအတွက် Quality Control နှင့် ပတ်သက်၍ နိုင်ငံတကာမှ အသိအမှတ်ပြုထားသည့် Certificateများနှင့် Test Report များအားအောက်ပါအတိုင်းတင်ပြထားပါသည်-

(၁)Traction Machine Examination Certificate

(၂) Traction Machine Certificate of Comformity

(၃) Over Speed Governor

(၄) Progressive Safety Gear

(၅) Steel Wire Rope Test Report (No.WN18837)

(၆) Steel Wire Rope Test Report (No.WQ157101)

(ဂ) ပြည်တွင်း၌ ထွက်ရှိလာသည့် အစိတ်အပိုင်းများအား နိုင်ငံတကာ စံနှုန်းအရ သတ်မှတ်ထားသည့်နည်းလမ်းများအတိုင်း အရည်အသွေးကို သက်ဆိုင်ရာဌာနဖြင့် စစ်ဆေးသွားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။

(ဃ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၂၁။ ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ မြေကွက်အမှတ်(၂၈၃)ရှိ မြေဧရိယာ ၂.၁၅၈ ဧက (၈၇၃၃.၁၂ စတုရန်းမီတာ)တွင် နိုင်ငံတကာအဆင့်မီ ဓာတ်လှေကားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီ လ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

M-2113
13/1/17

အကြောင်းအရာ။ **သဘောထားမှတ်ချက်ကောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃. ၁၂. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၃/ မ-၁၃၉၄/၂၀၁၆(၁၆၇၉)

၁။ ဖော်ကျွန်းဓါတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ မြေကွက်အမှတ် (၂၈၃)ရှိ မြေဧရိယာ ၂. ၁၅၈ ဧက (၈၇၃၃. ၁၂ စတုရန်းမီတာ)တွင် နိုင်ငံတကာအဆင့်မီ ဓါတ်လှေကားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၅. ၁. ၂၀၁၇) ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၆၂)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မြောက်ဥက္ကလာပမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဖော်ကျွန်းဓါတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက်
လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Cabinet/27,(3)



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁(၁၄၂၁၅)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Fortune Elevator & Escalator Company Limited မှ နိုင်ငံတကာအဆင့်မီဓာတ်လှေကားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ သဘောထား မှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃-၁၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၃/ မ-၁၃၉၄/ ၂၀၁၆ (၁၆၈၀)

၁။ ဖော်ကျွန်း ဓာတ်လှေကားနှင့် စက်လှေကား ကုမ္ပဏီလီမိတက် (Fortune Elevator & Escalator Company Limited) မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ မြေကွက်အမှတ်-၂၈၃ ရှိ မြေဧရိယာ ၂.၁၅၈ ဧက (၈၇၃၃.၁၂ စတုရန်းမီတာ) ပေါ်တွင် နိုင်ငံတကာအဆင့်မီ ဓာတ်လှေကားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရရှိသည့်နေ့မှ အနည်းဆုံးနှစ် (၂၀) မပျက်မကွက်လည်ပတ်ဆောင်ရွက်ဖြစ်ပြီး၊ တည်ဆောက်ရေး ကာလမှာ (၁၈) လဖြစ်ကာ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၈၇၃၃.၁၂ စတုရန်းမီတာရှိကြောင်း၊

(ခ) Elevator တစ်စင်းအတွက် လိုအပ်သည့် အစိတ်အပိုင်း (၇၇) မျိုးအနက် ပထမနှစ်တွင် ပြည်တွင်းတွင် မထုတ်လုပ်နိုင်သည့် အစိတ်အပိုင်း (၂၉) မျိုးကို တင်သွင်းသွားမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု (၁၀) ပြည့်မြောက်သည့်ကာလတွင် ပြည်ပမှ အစိတ်အပိုင်း (၂၂) မျိုးသာ တင်သွင်းပြီး ကျန်အစိတ်အပိုင်း (၅၁) မျိုးအား ပြည်တွင်းတွင် ထုတ်လုပ်ရောင်းချသွားမည်ဖြစ်ကြောင်း၊

(ဂ) ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကာကွယ်ရေး အစီအစဉ်များကိုလည်း ထည့်သွင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ (၂%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility -CSR) လုပ်ငန်းများတွင် ထည့်သွင်းအသုံးပြုသွားမည် ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ လုပ်ငန်းတည်ရှိရာဒေသရှိပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေး အလုပ်ရုံအတွင်း စနစ်တကျအမှိုက်စွန့်ပစ်ရန် စီစဉ်ထားရှိခြင်း၊ ရေမြောင်းများအား ရေစီးရေလာကောင်းမွန်အောင် စနစ်တကျ ဖောက်လုပ်ထားရှိခြင်း၊ အလုပ်ရုံအတွင်း လေဝင်လေထွက်ကောင်းမွန်စေရန်နှင့် ရေအိမ်များ ညီညွတ်မျှတအောင်ဆောင်ရွက်ပေးခြင်း၊ လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် ဆူညံမှု၊ ညစ်ညမ်းမှုများမဖြစ်အောင် အစွမ်းကုန် ကြိုးစားဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Fortune Elevator & Escalator Company Limited မှ နိုင်ငံတကာ အဆင့်မီဓာတ်လှေကားများထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရာ၌ လုပ်ငန်းတစ်ခုလုံး၏ အဆင့်တိုင်းတွင်စက်များကိုအသုံးပြု ဆောင်ရွက်ရမည်ဖြစ်သဖြင့် လုပ်ငန်းသုံး စက်၊ ယာဉ်၊ ယန္တယားများကြောင့် ဆူညံသံ၊ တုန်ခါမှုများဖြစ်ပေါ်ခြင်းကြောင့် အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊

(ခ) လျှပ်စစ်ဂဟေဆော် လုပ်ငန်းများကြောင့် ဘေးအန္တရာယ်များ ဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) ယာဉ်၊ ယန္တရားများမှ စက်သုံးဆီများကြောင့် ရေထု၊ မြေထု ညစ်ညမ်းစေမှုများ ဖြစ်ပေါ်စေ နိုင်ခြင်း၊

(ဃ) စွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှုစနစ်တကျ မရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Fortune Elevator & Escalator Company Limited မှ နိုင်ငံတကာ အဆင့်မီဓာတ်လှေကားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့်

လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)** ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်၊

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန်။

(ဂ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီး/ ပြည်နယ် အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင်နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး

ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

NPT-106
10.1.17
M-2105
11/1/17

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၂၆၂၈)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃.၁၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၃ / န-၁၃၉၄ / ၂၀၁၆ (၁၆၈၁)

၁။ ဖော်ကျွန်းဓာတ်လှေကားနှင့် စက်လှေကားကုမ္ပဏီလီမိတက်မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ မြေကွက်အမှတ်(၂၈၃) တွင် နိုင်ငံတကာအဆင့်မီဓာတ်လှေကားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး နိုင်ငံတကာအဆင့်မီဓာတ်လှေကားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဂ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) လျှပ်စစ်ဥပဒေ၊ လျှပ်စစ်ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပြည်တွင်းဖြစ် လျှပ်စစ်ပစ္စည်းထုတ်လုပ်မှု လျှပ်စစ်အန္တရာယ်ကင်းရှင်းကြောင်း လက်မှတ်ရရှိရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ ဖော်ကျွန်းခဲတတ်လှေကားနှင့် စက်လှေကားကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ ခဲတတ်လှေကားများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အထက်ဖော်ပြပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
- ရုံးလက်ခံ

# FORTUNE ELEVATOR & ESCALATOR CO., LTD.

ဖေါ်ကျွန်းဓါတ်လှေကားနှင့် စက်လှေကား
ကုမ္ပဏီလီမိတက်

၏

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

သို့

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ELEVATOR

များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း
ဆောင်ရွက်ခွင့်

အဆိုပြုလွှာ

မာတိကာ ( ၁ / ၂ )

မာတိကာ ( ၂ / ၂ )

FORTUNE
International Limited

သို့

ဥက္ကဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၇ ခုနှစ်ဖေဖော်ဝါရီလ (    )ရက်။

အကြောင်းအရာ။ ။ Elevator များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအားမြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှုဥပဒေအရခွင့်ပြုပေးနိုင်ပါရန်တင်ပြခြင်း။

ကျွန်တော်တို့၏ (Fortune Elevator & Escalator Co., Ltd.) သည် ကုမ္ပဏီပိုင် ရန်ကုန်တိုင်းဒေသကြီး မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ မြေကွက်အမှတ် (၂၈၃) ၏မြေ (၂. ၁၅၈) ဧက ပေါ်တွင် စက်ရုံတည်ဆောက်ပြီး (560 Kg, 700Kg နှင့် 1050Kg) Elevator များထုတ်လုပ်ခြင်းလုပ်ငန်းအားဆောင်ရွက်မည်ဖြစ်ပြီး အဆိုပြုလုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ဖြင့်လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်

ကျွန်တော်များအဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၁၉-၀၉-၁၆) ရက်နေ့တွင်ကျင်းပပြုလုပ်သည့် (၃၅/၁၆) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပြီး အစည်းအဝေး၏ဆုံးဖြတ်ချက်များအတိုင်းပြင်ဆင်ပြီးဖြစ်သဖြင့်ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန်အတွက်အဆိုပြုလွှာ (    ) စုံကိုပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဦးမြဟန်

မန်နေဂျင်းဒါရိုက်တာ

Fortune Elevator & Escalator Co., Ltd.

0681

**Head Office (Yangon)**
Building (12), MICT Park, Universities Hlaing Campus, Hlaing Township, Yangon, Myanmar.
Tel : (951) 2305250, 2305251, 2305252, 2305253, 2305254, 2305255, 2305256, 2305257
Fax : (951) 2305258, 2305259 Email : mdo-fil@fortunemm.com, bahosi.fil@gmail.com



FORTUNE ELEVATOR & ESCALATOR CO., LTD.

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၇ ခုနှစ်ဖေဖော်ဝါရီလ (၂)ရက်။

အကြောင်းအရာ။ ။ Elevator များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၏သဘောထား ပြန်ကြားချက်နှင့် စပ်လျဉ်းပြီးကတိဝန်ခံချက်တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁-၀၁-၂၀၁၇ ရက်စွဲပါစာအမှတ် မရက-၃/ မ-၁၃၉၄/၂၀၁၇ (၁၇၅)

ကျွန်တော်တို့၏ (Fortune Elevator & Escalator Co., Ltd.) သည် ကုမ္ပဏီပိုင်ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၏မြေ(၂. ၁၅၈)ဧကပေါ်တွင်စက်ရုံတည်ဆောက်ပြီး (560 Kg, 700Kg နှင့် 1050Kg) Elevator များထုတ်လုပ်ခြင်းလုပ်ငန်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့မှသဘောထားပြန်ကြားချက်နှင့်စပ်လျဉ်း၍ ရည်ညွှန်းချက်ပါစာဖြင့်ပေးပို့လာခြင်းအပေါ် အောက်ပါအတိုင်းကတိပြုပြန်ကြားအပ်ပါသည်-

- အဆိုပြုလုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာ အချက်အလက်များကိုပြည့်စုံစွာ ဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအသုံးပြုခြင်းနှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့်လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အားအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့်ကတိကဝတ်များကို တိတိကျကျလိုက်နာအကောင်အထည်ဖော်ဆောင်ရွက် သွားမည်ဖြစ်ကြောင်းကတိပြုပါသည်၊
- အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက်ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination–IEE) ကိုဆောင်ရွက်ပြီးပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ထုံးလုပ်နည်းပါ အချက်အလက် များပါအတိုင်းအစီရင်ခံစာရေးသားတင်ပြရန်ကတိပြုပါသည်၊
- လေ့လာဆန်းစစ်မှုများအားအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံ

5109

